အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ခိုင်ဦးကုမ္ပဏီလီမိတက်မှ ကူးသန်း ရောင်းဝယ်ရေး လုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံငှားရမ်းခြင်းနှင့် ကွန်တိန်နာ အငှားထားနေရာ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ လုပ်ငန်းအဆိုပြုသူအမည် | - **ခိုင်ဦးကုမ္ပဏီ လီမိတက်**<br>**ဒေါ်ဝင်းမော်ထွန်း(အဘ-ဦးသန်းထွန်း)** |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - ကူးသန်း ရောင်းဝယ်ရေး လုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံငှားရမ်းခြင်းနှင့် ကွန်တိန်နာ အငှားထား နေရာ ဝန်ဆောင်မှု လုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါလမ်း၊ အကွက်အမှတ် (၂၃) |
| ၃။ | မြေအကျယ်အဝန်း | - ၁၅၀,၀၀၀ စတုရန်းမီတာ |
| ၄။ | မြေပိုင်ရှင် | - ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် |
| ၅။ | စာချုပ် သက်တမ်း | - ကနဦး သက်တမ်း (၅၀ )နှစ် နှင့် ၁၀နှစ်၂ကြိမ် သက်တမ်းတိုး |
| ၆။ | တည်ဆောက်ရေးကာလ | - ၂နှစ် |
| ၇။ | **စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု** | - **ကျပ် ၄၇,၃၀၅.၂၇ သန်း (US$ ၂၀.၄၇၇ သန်း အပါအဝင်)** |
| | ငွေပမာဏ | - ကျပ် ၈၆၀.၀၀ သန်း |
| | စက်ပစ္စည်းကိရိယာများ (ပြည်ပဝယ်) | - ကျပ် ၁၃,၆၀၁.၂၈ သန်း (US$ ၁၁.၃၃၄ သန်း) |
| | အဆောက်အအုံ | - ကျပ် ၄,၀၀၀.၀၀ သန်း |
| | Jetty တန်ဖိုးအတွက် ကုန်ကျငွေ | - ကျပ် ၁၅,၈၇၄.၇၄ သန်း(US$ ၇.၃၉၃ သန်းအပါအဝင်) |
| | မော်တော်ကားများတန်ဖိုး | - ကျပ် ၂,၂၆၀.၀၀ သန်း (US$ ၁.၇၅ သန်း အပါအဝင်) |
| | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများတန်ဖိုး | - ကျပ် ၃၂.၈၄ သန်း |
| | လိုအပ်သောအထောက်အပံ့ပစ္စည်းများ | - ကျပ် ၁၀,၆၇၆.၄၁သန်း |
| ၈။ | ဝန်ထမ်းအင်အား | - **၇၉ ဦး** |
| | ပြည်တွင်း | - ၇၉ ဦး အနိမ့်ဆုံးဝန်ထမ်းလစာမှာ ကျပ် ၁၂၀,၀၀၀<br>အမြင့်ဆုံးဝန်ထမ်းလစာမှာ ကျပ် ၁,၅၀၀,၀၀၀ |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ် ) | - ကျပ် ၇,၀၉၈.၀၀ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် | - ကျပ် ၄,၇၅၂.၃၄၃ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - ကျပ် ၂,၃၄၅.၆၅၇ သန်း |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၈၉၄.၅၅ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၃၃၈.၀၀ သန်း |

| | | |
|---|---|---|
| ၁၁။ | အရင်းကြေကာလ | - ၁၀ နှစ်၊ ၁၀ လ |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၅.၈၃ % |
| ၁၃။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၃၆,၀၀၀ Units per day |
| ၁၄။ | ငွေကြေး အထောက်အထား | - ကုမ္ပဏီအမည်ဖြင့် Co-operative Bank Ltd. (CB -Bank) တွင်(၁၁.၃.၂၀၁၆)ရက်စွဲဖြင့်လက်ကျန်ငွေကျပ် ၅၀၀,၀၀၀,၀၀၀ နှင့် US$ ၉၉,၀၀၀ ရှိကြောင်း တင်ပြ ထားပါသည်။ |
| ၁၅။ | မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်ရေး စီမံချက်၊ | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက် များ ချက်မှတ်ပြီး၊ ကြိုတင်ကာကွယ်မှုများနှင့် သက်ဆိုင်ရာ မြို့နယ်မီးသတ်ဦးစီးဌာနနှင့်ပူပေါင်း၍ ဆောင်ရွက်မည် ဖြစ်ကြောင်းဝန်ခံကတိပြုချက်အားတင်ပြထားပါသည်။ |
| ၁၆။ | အခြား | - ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့် ဆိပ်ကမ်း အထောက် အကူပြုအဆောက်အအုံများကို တည်ဆောက် ၍ BOT စနစ်ဖြင့် ဆိပ်ကမ်းလုပ်ငန်းဆောင်ရွက်ရန်၊ ကုမ္ပဏီနှင့် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်း အာဏာပိုင် တို့ချုပ်ဆိုမည် စာချုပ်(မူကြမ်း) ကိုတင်ပြ ထားပါသည်။ |

M4-318
30.3.2016

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၅. ၃. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ မ-၀၁၅/၂၀၁၆(၁၇၇)

၁။ ခိုင်ဦးကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါလမ်း၊ အကွက်အမှတ်(၂၃)တွင် ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံငှားရမ်းခြင်းနှင့် ကွန်တိန်နာ အငှားထားနေရာ ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၉၉)ဦး လုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါလမ်း၊ အကွက်အမှတ်(၂၃)ရှိ မြေကွက်လွတ်ကို ပထမနှစ်မှ(၁၀)နှစ်မြောက်အထိ စုစုပေါင်းဝင်ငွေ၏ (၆%)၊ (၁၁)နှစ်မှ (၂၀)နှစ်မြောက်အထိ စုစုပေါင်းဝင်ငွေ၏ (၁၂%)၊ (၂၁)နှစ်မှ (၃၅)နှစ်မြောက်အထိ စုစုပေါင်းဝင်ငွေ၏ (၁၈%)၊ (၃၆)နှစ်မြောက်မှ အထက် စုစုပေါင်းဝင်ငွေ၏ (၂၀%)နှုန်းဖြင့် (၅၀+၁၀+၁၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2016/Cabinet/13.,(11)

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၄. ၃. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၇)အရ ခိုင်ဦးကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ကျောက်တန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ခိုင်ဦးကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/13.,(12)

M4 -252
15.3.16

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၀၁/ MIC(OSS) /၀၁( ၉၁/၁၆ )
ရက်စွဲ ၊ ၂၀၁၆ခုနှစ် မတ် လ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ခိုင်ဦးကုမ္ပဏီလီမိတက် မှ သိုလှောင်ရုံငှားရမ်းခြင်းနှင့်ကွန်တိန်နာအငှား ထားနေရာဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၃-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ မ-၀၁၅/ ၂၀၁၆(၁၈၂)

၁။ ခိုင်ဦးကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါလမ်း၊ အကွက်အမှတ်(၂၃)တွင် ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းအတွက်လိုအပ်သော သိုလှောင်ရုံငှားရမ်းခြင်းနှင့်ကွန်တိန်နာအငှားထားနေရာဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်လုပ်ငန်းခွင်သာယာရေးအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များအား ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်မှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးတာဝန်ယူပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility – CSR )လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်ပျက်စီးစေမှုများမရှိစေရန်(သို့မဟုတ်)နည်းပါးစေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်လေ့လာခြင်း ( Environmental Impact Assessment-EIA ) လုပ်ငန်းနှင့်အဆိုပါဆန်းစစ်လေ့လာတွေ့ရှိချက်များကို အခြေခံ၍ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီ

အစဉ်(Environmental Manangement Plan – EMP)အား ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ၊ နိုင်ငံတကာစံချိန်စံညွှန်းများနှင့်အညီကျွမ်းကျင်သည့် ပညာရှင်များ ဖြင့် တာဝန်ယူလေ့လာဆန်းစစ်မှုများပြုလုပ်၍ အစီရင်ခံတင်ပြသွားမည်ဖြစ်ကြောင်း ဖော်ပြပါ ရှိပါသည်။

၃။ ခိုင်ဦးကုမ္ပဏီလီမိတက်မှ သိုလှောင်ရုံငှားရမ်းခြင်းနှင့်ကွန်တိန်နာအငှားထားနေရာဝန် ဆောင်မှုလုပ်ငန်းများအတွက် တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာတွင် မြေတူးဖော် ခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းမှထွက်ရှိလာမည့် မြေသားအမှုန်အမွှားများ၊ ဖုန်မှုန့်များ ကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းသုံးယာဉ်ယန္တရားနှင့်ထားရှိမည့်ကွန်တိန်နာယာဉ်များမှ ထွက်ရှိလာမည့် စွန့်ပစ်အင်ဂျင်ဝိုင်နှင့်အမဲဆီများဖိတ်စင်စက်သုံးဆီများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊ အသံဆူညံခြင်း၊ အလုပ်သမားများနှင့်ယာဉ်မောင်းများ၏စွန့်ပစ်အမှိုက်များနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်လေထု၊ မြေထု၊ ရေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ခိုင်ဦးကုမ္ပဏီလီမိတက်မှ သိုလှောင်ရုံငှားရမ်းခြင်းနှင့်ကွန်တိန်နာအငှားထား နေရာဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြု လွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR)အတွက် အသားတင်အမြတ်ငွေ ၏(၂%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာအကောင် အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မ ဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် အဆိုပြုလွှာတွင် အဆိုပြုဖော်ပြထားသည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(**Environmental Impact Assessment -**

EIA)ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းများနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( **Environmental Manangement Plan – EMP** )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၅၂-ပဆ/ ခွဲ(၁) ၂၀၁၆ (Port) ( ၃/၃၈၅ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၉ ရက်

အကြောင်းအရာ။ **ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၃)တွင် ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဘက်စုံသုံးဆိပ်ခံတံတား နှင့် ဆိပ်ကမ်းအဆောက်အအုံများ တည်ဆောက်၍ BOT စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန်ကိစ္စ**

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၃) တွင် ခေတ်မီအပြည့်ပြည့်ဆိုင်ရာဘက်စုံသုံးဆိပ်ခံတံတားနှင့် ဆိပ်ကမ်းအဆောက်အအုံများ တည်ဆောက် ၍ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် Khaing Oo Co., Ltd. မှ **နောက်ဆက်တွဲ(က)**ပါ စာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၃)အား ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဘက်စုံသုံးဆိပ်ခံတံတားနှင့် ဆိပ်ကမ်းအဆောက်အအုံများ တည်ဆောက်ကာ လုပ်ငန်းလုပ်ကိုင်နိုင်ရေးအတွက် ငှားရမ်းခွင့်ပြုသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် နိုင်ငံတော်သမ္မတရုံးမှ **နောက်ဆက်တွဲ(ခ)**ပါစာဖြင့် အကြောင်းကြားထားပါသည်။

၃။ Khaing Oo Co., Ltd. သည် အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်ရေးဝန်ကြီးဌာနတွင် ကန့်သတ်ထားသော ကုမ္ပဏီလီမိတက်အဖြစ် ၈-၁၂-၂၀၁၅ ရက်စွဲပါ မှတ်ပုံတင်အမှတ်၊ ၁၂၂၃/ ၂၀၁၅-၂၀၁၆(နပတ)ဖြင့် တရားဝင်မှတ်ပုံတင်ထားသော တိုင်းရင်းသားလုပ်ငန်းရှင် ကုမ္ပဏီပာစ်မှုဖြစ်ကြောင်း သိရှိရပါသည်။

၄။ သီလဝါဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ်(၂၃)သည် မျက်နှာစာအလျား ၂၀၀ မီတာရှိပြီး အကျယ် ၇၅၀ မီတာရှိရာ စုစုပေါင်းဧရိယာအားဖြင့် ၃၇.၀၆ ဧကရှိပါသည်။ အဆိုပါ မြေကွက်ကို ကျောထောက်နောက်ခံပြု၍ မြစ်ကမ်းနဖူးတွင် မျက်နှာစာအလျား ၁၉၀ မီတာ အကျယ် ၃၀ မီတာ အရှယ် ခေတ်မီအပြည့်ပြည့်ဆိုင်ရာဘက်စုံသုံး ဆိပ်ခံတံတားကို တည်ဆောက်ပြီး ကျောထောက် နောက်ခံမြေပေါ်တွင် ကုန်သေတ္တာလွင်ပြင်အပါအဝင် ကုန်သိုလှောင်ရုံများနှင့် အထောက်အကူပြု အဆောက်အအုံများ တည်ဆောက်ကာ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

\\Motdata\d\KHWE-1 (WATER TRANSPORT)\2016\MPA\52-PA SA ( PORT).doc

၅။ Khaing Oo Co., Ltd. အား အငှားချထားမည့် မြေကွက်အမှတ်(၂၃)၊ စုစုပေါင်းမြေဧရိယာ ၃၇.၀၆ ဧကအတွက် အခြားသောစက်သုံးဆီတင်/ချ ဆိပ်ခံတံတား ဆောင်ရွက်ခွင့်ပြုထားသည့် ကုမ္ပဏီများနည်းတူ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ငွေကျပ် ၁၅၀ သိန်းနှုန်းဖြင့် ကျပ် ၅၅၅,၉၀၀,၀၀၀/- ကို အရစ်(၂)ရစ်ခွဲ၍ ပေးဆောင်စေရမည်ဖြစ်ပါသည်။

၆။ အဆိုပါ ငှားရမ်းမြေအတွက် လစဉ်မြေငှားရမ်းခကိုလည်း အခြားသော ဘက်စုံသုံးဆိပ်ခံတံတားများနည်းတူ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများမှ ရရှိသည့် စုစုပေါင်းဝင်ငွေအပေါ် နှစ်အပိုင်း အခြားအလိုက် တစ်စထက်တစ်စ တိုးတက်လာသည့်ရာခိုင်နှုန်းထားများဖြင့် အောက်ပါအတိုင်း ပေးဆောင်စေရမည် ဖြစ်ပါသည်-

| **လုပ်ငန်းဆောင်ရွက်သောနှစ်** | | **စုစုပေါင်း ဝင်ငွေအပေါ် ပေးဆောင်ရမည့် နှုန်းထား** |
|---|---|---|
| (က) ပထမနှစ်မှ (၁၀)နှစ်မြောက်အထိ | - | ၆ % |
| (ခ) (၁၁) နှစ်မြောက်မှ (၂၀) နှစ်မြောက်အထိ | - | ၁၂ % |
| (ဂ) (၂၁) နှစ်မြောက်မှ (၃၅) နှစ်မြောက်အထိ | - | ၁၈ % |
| (ဃ) (၃၆) နှစ်မြောက်မှ အထက် | - | ၂၀ % |

၇။ Khaing Oo Co., Ltd. သည် ခေတ်မီအပြည့်ပြည့်ဆိုင်ရာဘက်စုံသုံး ဆိပ်ခံတံတားနှင့် ဆက်စပ်အဆောက်အအုံများ တည်ဆောက်ခြင်းနှင့် ကုန်ကိုင်တွယ်စက်ကိရိယာများ ဝယ်ယူတပ်ဆင်ခြင်း လုပ်ငန်းအတွက် မြန်မာကျပ်ငွေ ၅၀၅၈.၉၉ သန်းနှင့် အမေရိကန်ဒေါ်လာ ၁၃.၀၈၄၄ သန်းခန့် ရင်းနှီးမြှုပ်နှံမည်ဖြစ်ကြောင်းနှင့် စီမံကိန်းလုပ်ငန်းများအတွက် တည်ဆောက်ရေးကာလကို (၃)နှစ် အတွင်း ပြီးစီးအောင်တည်ဆောက်ပြီး ပထမအဆင့်လုပ်ငန်းများအဖြစ် အောက်ဖော်ပြပါ လုပ်ငန်းများကို ခွင့်ပြုချက်ရရှိပြီး (၁၈)လအတွင်း ပြီးစီးအောင် တည်ဆောက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်-

| | | |
|---|---|---|
| (က) တံတားတည်ဆောက်မည့်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဒေသ |
| (ခ) မြေကွက်အမှတ် | - | ဧရိယာ(၃၇.၀၆ဧက) အကျယ်အဝန်းရှိ မြေကွက် အမှတ် (၂၃) |
| (ဂ) မြေကွက်အရွယ်အစား | - | ၂၀၀ မီတာ x ၇၅၀ မီတာ |
| (ဃ) ဆိပ်ခံတံတား အမျိုးအစား | - | သံကူကွန်ကရစ် ဆိပ်ခံတံတား |
| (င) ဆိပ်ခံတံတား အရွယ်အစား | - | ၁၉၀ မီတာ x ၃၀ မီတာ |
| (စ) ဆိပ်ကမ်းလွင်ပြင် အကျယ်အဝန်း | - | ၁၈၀ မီတာ x ၁၈၀ မီတာ |
| (ဆ) သိုလှောင်ရုံ | - | ၃၀၀ မီတာ x ၂၅၀ မီတာ x ၂၅ ပေရှိ (၆)လုံး |

၈။ Khaing Oo Co., Ltd. အနေဖြင့် နိုင်ငံတော်မှ ၂၀၁၂ ခုနှစ်က ပြဋ္ဌာန်းထားသော မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ အဆိုပါစီမံကိန်းလုပ်ငန်းအတွက် လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ သက်တမ်း/မြေငှားကာလ သက်တမ်းကို ကနဦး(၅၀)နှစ်နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ်တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂)ကြိမ် တိုးမြှင့်ခွင့်ပြုရန် ဖြစ်ပါသည်။

၉။ Khaing Oo Co., Ltd. အနေဖြင့် ခေတ်မီအပြည်ပြည်ဆိုင်ရာဘက်စုံသုံး ဆိပ်ခံတံတားနှင့် ဆိပ်ကမ်းအထောက်အကူပြုအဆောက်အအုံများတည်ဆောက်ရာတွင် ပင်လယ်ရေကြောင်းဆိုင်ရာစည်းမျဉ်းစည်းကမ်းသတ်မှတ်ချက်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ကာကွယ်စောင့်ရှောက်ရေးဆိုင်ရာ ကိစ္စရပ်များ၊ မီးဘေးလုံခြုံရေးဆိုင်ရာ ကိစ္စရပ်များအတွက် သက်ဆိုင်ရာဌာနများမှ စည်းမျဉ်းစည်းကမ်းသတ်မှတ်ချက်များ၊ သဘောထားမှတ်ချက်များ နှင့် အကြံပြုချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် လိုအပ်မည် ဖြစ်ပါသည်။

၁၀။ ယခုတင်ပြထားသော စီမံကိန်းအဆိုပြုလွှာအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ခွင့်ပြုရန်သဘောတူညီမှုရရှိပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Khaing Oo Co., Ltd. တို့ အကြားချုပ်ဆိုမည့် သဘောတူစာချုပ်(မူကြမ်း)များကို ညှိနှိုင်းပြုစုပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်ရယူကာ သဘောတူစာချုပ်များ ချုပ်ဆိုသွားမည် ဖြစ်ပါသည်။

၁၁။ အဆိုပါ စီမံကိန်းနှင့်ပတ်သက်၍ Khaing Oo Co., Ltd. အား လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန် ကိစ္စအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် ၁-၁-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၁/၂၀၁၆)က သဘောတူပြီး ဖြစ်ပါသည်။

၁၂။ သို့ဖြစ်ပါ၍ Khaing Oo Co., Ltd. အား ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၂၃)တွင် ခေတ်မီအပြည်ပြည်ဆိုင်ရာဘက်စုံသုံး ဆိပ်ခံတံတားနှင့်ဆိပ်ကမ်းအထောက်အကူပြု အဆောက်အအုံများ တည်ဆောက်၍ BOT စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုနိုင်ပါရန်နှင့် အဆိုပါ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်းအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ မြေအသုံးချမှုပရီမီယံကြေး ငွေကျပ် ၅၅၅,၉၀၀,၀၀၀/-ကို ပေးဆောင်စေ၍လည်းကောင်း၊ လစဉ် မြေငှားရမ်းခအထက် စာပိုဒ်(၆)ပါ သတ်မှတ်ချက်အတိုင်း ပေးဆောင်စေ၍လည်းကောင်း၊ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်း/မြေငှားကာလသက်တမ်းကို ကနဦး(၅၀)နှစ်နှင့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ်တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂)ကြိမ် တိုးမြှင့် ခွင့်ပြုသည့်စနစ်ဖြင့်

လည်းကောင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွင့်အရေးများနှင့် ခံစားခွင့်များကို ခံစားခွင့်ပြုလျက် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ဉာဏ်ထွန်းအောင်
ပြည်ထောင်စုဝန်ကြီး

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူကို -

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နောက်ဆက်တွဲ(က)

KHAING OO

No.(348), Zayar Khaymar Street, word No.(6), Mayangone Township, Yangon

---

သို့

အမှုဆောင်အရာရှိချုပ်

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

ရန်ကုန်မြို့

စာအမှတ်။ ။ KO / 002 / 2015 - 16

ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၄)ရက်

အကြောင်းအရာ ။ ။ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းဒေသတွင် ခေတ်မီဘက်စုံသုံး အပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့် ဆက်စပ်လုပ်ငန်း ဆောင်တာများ၏ ဆက်စပ် အဆောက်အအုံများကို တည်ဆောက်၍ BOT စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန် စီမံကိန်း အဆိုပြုလွှာ တင်ပြခြင်း။

ရည် ညွှန်း ချက် ။ ။ နိုင်ငံတော်သမ္မတရုံး၏ ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ(၂၉)ရက် ရက်စွဲပါ စာအမှတ် - ၄၉ ( ၁ ) / ၇ / သမ္မတရုံး။

၁။ ကျွန်မများ ခိုင်ဦးကုမ္ပဏီလီမိတက်သည် အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုး တိုးတက်မှု ဝန်ကြီးဌာနတွင် ကန့်သတ်ထားသော ကုမ္ပဏီလီမိတက်အဖြစ် အမှတ်(၁၂၂၃/၂၀၁၅-၂၀၁၆(နပတ)နှင့် ၂၀၁၅ခု၊ ဒီဇင်ဘာလ(၈)ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုမိန့် ရရှိထားပြီးဖြစ်ပါသည်။

၂။ ခိုင်ဦးကုမ္ပဏီအနေဖြင့် သီလဝါဆိပ်ကမ်းဒေသတွင် ခေတ်မီဘက်စုံသုံး အပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားနှင့် သိုလှောင်ရုံဌားရမ်းခြင်း၊ ဝန်ဆောင်မှုလုပ်ငန်းများအတွက် ဆက်စပ်အဆောက်အအုံများ တည်ဆောက်နိုင်ရေး မြေနေရာချထားပေးပါရန် နိုင်ငံတော်အကြီးအကဲများထံ တင်ပြခဲ့ရာ သီလဝါဆိပ်ကမ်းဒေသရှိ မြေဧရိယာ (၃၇.၀၅ဧက) အကျယ်အဝန်းရှိ မြေကွက်အမှတ်(၂၃) (စုစုပေါင်းအလျား(၇၅၀မီတာ)မျက်နှာစာအကျယ် ၂၀၀မီတာ)ကို ကျွန်မများ ခိုင်ဦးကုမ္ပဏီအား နိုင်ငံတော်သမ္မတရုံးမှ ရည်ညွှန်းချက်ပါစာဖြင့် သတ်မှတ်ခွင့်ပြုထားပြီးဖြစ်ပါသည်။

၃။ ခိုင်ဦးကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ တရားဝင်မှတ်ပုံတင်ထားပြီး အထက်ဖော်ပြပါ အထွေထွေကုန်ပစ္စည်းများ အတင်အချလုပ်ခြင်းနှင့် ထိန်းသိမ်းပေးခြင်း လုပ်ငန်းများနှင့် ပို့ကုန် သွင်းကုန်အခကြေးငွေယူ၍ သိုလှောင်ခြင်း လုပ်ငန်းများကို သင့်တင့်သောနှုန်းထားများဖြင့် လက်ခံဆောင်ရွက်ပေးသွားမည် ဖြစ်ပါသည်။

၄။ ခိုင်ဦးကုမ္ပဏီအနေဖြင့် အထက်ဖော်ပြပါ မြေကွက်အမှတ် (၂၃)တွင် သိုလှောင်ရုံများ ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန် ရည်ရွယ်ထားပါသည်။ အဆိုပါမြေဧရိယာ (၃၇.၀၅ဧက) တွင် ဆိပ်ကမ်းလုပ်ငန်းအတွက် (၂၃ဧက)ဝန်းကျင်ခန့် အသုံးပြု၍ ဆက်စပ်အဆောက်အဦးများ အတွက် (၁၄ဧက)ဝန်းကျင် အသုံးပြုရန် ရည်ရွယ်ထားပါသည်။

၅။ အဆိုပါ မြေနေရာတွင် အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတား တည်ဆောက်ရာ၌ ပင်လယ်ကူး သင်္ဘောကြီးများ ဆိုက်ကပ်နိုင်ရေးအတွက်လည်းကောင်း၊ သွင်းကုန် ပို့ကုန်ပစ္စည်းများ ရာသီမရွေး မူလအရည်အသွေးများ ပျက်ယွင်းမှုမရှိပဲ ကြာရှည်ထိန်းသိမ်းနိုင်မည့် ခေတ်မီသိုလှောင်ရေး စခန်း များ တည်ဆောက်သွားရန် ရည်ရွယ်ထားပါသည်။

၆။ စီမံကိန်းလုပ်ငန်းများကို (၃)နှစ်အတွင်း ပြီးစီးအောင် တည်ဆောက်သွားမည် ဖြစ်ပြီး ပထမအဆင့် လုပ်ငန်းများအဖြစ် ခွင့်ပြုချက်ရရှိပြီး (၁၈)လအတွင်း အောက်ဖော်ပြပါလုပ်ငန်းများကို အကောင်အထည်ဖော် တည်ဆောက်သွားမည်ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) | တံတားတည်ဆောက်မည့်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဒေသ |
| (ခ) | အကွက်အမှတ် | - ဧရိယာ(၃၇.၀၅ဧက) အကျယ်အဝန်းရှိ မြေကွက် အမှတ်(၂၃) |
| (ဂ) | မြေကွက်အရွယ်အစား | - ၂၀၀မီတာ x ၇၅၀ မီတာ |
| (ဃ) | ဆိပ်ခံတံတား အမျိုးအစား | - သံကူကွန်ကရစ် ဆိပ်ခံတံတား |
| (င) | ဆိပ်ခံတံတားအရွယ်အစား | - ၁၉၀ မီတာ x ၃၀ မီတာ |
| (စ) | ကွန်တိန်နာဝင်း အကျယ်အဝန်း | - ၁၈၀ မီတာ x ၁၈၀ မီတာ |
| (ဆ) | သိုလှောင်ရုံ | - ၃၀၀ ပေ x ၂၅၀ ပေ x ၂၅ ပေရှိ (၆)လုံး |

၇။ ခိုင်ဦးကုမ္ပဏီလီမိတက်အား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်းအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ သီလဝါဆိပ်ကမ်းဒေသရှိ ဧရိယာ (၃၇.၀၅ဧက) အကျယ် အဝန်းရှိ အထက်ဖော်ပြပါ မြေကွက်အမှတ် (၂၃)အတွက် မြေအသုံးချ ပရီမီယံကြေး အဖြစ် မြေတစ်ဧကလျှင် ( ၁၅၀ )သိန်းနှုန်း ပေးဆောင်မည်ဖြစ်ပါသည်။

၈။ ၎င်းအပြင် ခိုင်ဦးကုမ္ပဏီလီမိတက်သည် မြေငှားရမ်းခအဖြစ် ကျသင့်သည့် လစဉ် မြေငှားရမ်းခများကိုလည်း ဌာနမှ သတ်မှတ်သည့် နှုန်းထားအတိုင်း ပေးဆောင်မည် ဖြစ်ပါသည်။

၉။ ခေတ်မီဘက်စုံသုံး အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားနှင့် ဆက်စပ် အဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်းများကို ပြည်တွင်းငွေကျပ် (၅၀၅၈.၉၉)သန်းနှင့် နိုင်ငံခြားငွေ အမေရိကန် ဒေါ်လာ (၁၃.၀၈၄၄)သန်းခန့် ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၁၀။ သို့ဖြစ်ပါ၍ ခိုင်ဦးကုမ္ပဏီလီမိတက်အား ခွင့်ပြုထားသော သီလဝါဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ် (၂၃)တွင် အထက်ဖော်ပြပါ လုပ်ငန်းများ လုပ်ကိုင်ခွင့်သက်တမ်း ကနဦးနှစ်(၅၀)နှစ်နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့်ပြုသည့် BOT စနစ်ဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခွင့်အရေးနှင့် ခံစားခွင့်များကို ခံစားခွင့် ပြုကာ လုပ်ငန်းလုပ်ကိုင်ခွင့် ပြုနိုင်ပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်-

ဒေါ်ဝင်းမော်ထွန်း

ဒါရိုက်တာ

နောက်ဆက်တွဲ (ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၄၉ (၁) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂၉ ရက်

သို့

ပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ မြေကွက်ငှားရမ်းခွင့်(သို့မဟုတ်)ရောင်းချခွင့်ပြုပါရန် လျှောက်ထားလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ (၁) ဒေါက်တာစော်ခင်အောင် ၊ မန်နေဂျင်းဒါရိုက်တာ ၊ Green Alliance Energy Co., Ltd ၏ ၂၃ - ၁၂ - ၂၀၁၅ရက်စွဲပါတင်ပြစာ

(၂) ဒေါ်ဝင်းမော်ထွန်း၊ ဒါရိုက်တာ၊ Khaing Oo Co; Ltd ၏ ၂၃-၁၂-၂၀၁၅ ရက်စွဲပါတင်ပြစာ

ပို့ဆောင်ရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်း အကွက်အမှတ် (၂၂)မြေကွက်အား L.P.G ဓာတ်ငွေ့ရည်လုပ်ငန်း လုပ်ကိုင်ရန်အတွက် Green Alliance Energy Co., Ltd သို့လည်းကောင်း၊ သီလဝါဆိပ်ကမ်းအကွက်အမှတ် (၂၃)မြေကွက်အား ကုန်သွယ်ရေးလုပ်ငန်းများ လုပ်ကိုင်ရန်အတွက် Khaing Oo Co; Ltd သို့လည်းကောင်း ငှားရမ်းခွင့် (သို့မဟုတ်) ရောင်းချခွင့်ပြုပါရန် ရည်ညွှန်းစာများဖြင့် လျှောက်ထားတင်ပြလာခြင်းအပေါ် ငှားရမ်းခွင့် ပြုပါသဖြင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်နိုင်ရန် အကြောင်းကြားအပ်ပါသည်။

ပူးတွဲ - (၂) ရွက်

(signature)

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန(၃)

\\spdc\D\2015\Dec\Dec 29\49-1.docx

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅) ၄ - ၃၃ /နပတ( ၄၀၇ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၄ ရက်

အကြောင်းအရာ။ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ခိုင်ဦးကုမ္ပဏီလီမိတက် တို့အကြား BOT စနစ်ဖြင့် ဆောင်ရွက်မည့် ပဋိညာဉ်စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည်ညွှန်းချက်။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ၂၂-၃-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ဆက/ မြို့ပြ (KO)/ ၄၄၃/ ၂၀၁၆

၁။ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းဒေသရှိ ဧရိယာ (၃၇.၀၆)ဧကတွင် ခေတ်မီဘက်စုံသုံးအပြည်ပြည်ဆိုင်ရာဆိပ်ခံတံတားနှင့် ဆိပ်ကမ်းအထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ကာ BOT စနစ်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ငန်းများကို လုပ်ကိုင်ခွင့်ပြုခြင်းနှင့်စပ်လျဉ်း၍ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ခိုင်ဦးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော BOT စနစ်ဖြင့် ဆောင်ရွက်ရန်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်အပိုဒ် (က)တွင် အငှားချထားမည့်မြေပုံအား

ပူးတွဲ-၁ ဖြင့် ဖော်ပြထားရာ အဆိုပါမြေပုံသည် သက်ဆိုင်ရာ ဌာနမှ တရားဝင် ရေးဆွဲပေးသောမြေပုံဖြစ်ရန် လိုအပ်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါ သည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၁ အဓိပ္ပါယ်ဖော်ပြချက်၏ အပိုဒ်ခွဲ (က) မြေငှားရမ်းခ နှုန်းထားများတွင် "အပိုဒ် ၆ တွင်ဖော်ပြထားသော မြေအသုံးချမှုပရီမီယံ" ဟု ထည့်သွင်းဖော်ပြထားရာ မြေအသုံးချမှုပရီမီယံကြေးမှာ မြေငှားရမ်းခမဟုတ် သဖြင့် မြေငှားရမ်းခနှုန်းထားအဓိပ္ပါယ်ဖွင့်ဆိုချက်တွင် ထည့်သွင်းရန် မသင့်ဟု သဘောရရှိပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၁ အဓိပ္ပါယ်ဖော်ပြချက်၊ အပိုဒ်ခွဲ (ခ)တွင် "ဆိပ်ကမ်း သုံးစွဲခနှုန်းထားများဆိုသည်မှာ ဤပဋိညာဉ်စာချုပ်အပိုဒ် ၈(ဆ) တွင် ဖော်ပြ ထားသောနှုန်းထားများကိုဆိုသည်" ဟုဖော်ပြထားပါသည်။ အပိုဒ် ၈(ဆ)တွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ဥပဒေ၊ နည်းဥပဒေများနှင့် လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူက အခါအားလျော်စွာထုတ်ပြန်သည့်အမိန့်နှင့် ညွှန်ကြားချက်ကို လိုက်နာဆောင်ရွက်ရမည်ဟု ဖော်ပြထားရာ ရှင်းလင်းမှု မရှိဟုယူဆပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၆ ၌ နှစ်စဉ်မြေငှားရမ်းခအား နှစ်စဉ်စုစုပေါင်း ဝင်ငွေအပေါ်တွင် ရာခိုင်နှုန်းဖြင့် တွက်ချက်ဖော်ပြထားရာ ဌာနအနေဖြင့် နှစ်စဉ်စုစုပေါင်းဝင်ငွေအမှန်ကို သိရှိနိုင်ရန်အတွက် ဌာနမှ မည်သို့စိစစ်ဆောင် ရွက်မည်ဖြစ်ကြောင်း ထည့်သွင်းဖော်ပြရန်သင့် မသင့် ဌာနမှ ပြန်လည်စိစစ် သင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၆ တွင် ငှားရမ်းခကို ဘဏ္ဍာရေးနှစ်နှင့်တွက်၍ ပေးသွင်းရန်ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ ပထမနှစ်သည်

ဘဏ္ဍာရေးနှစ်နှင့်ကိုက်ညီမှုရှိ မရှိ စိစစ်ရန်လိုအပ်ပါသည်။ ကိုက်ညီမှုမရှိပါ က ပထမနှစ်အတွက် ငှားရမ်းခပေးသွင်းခြင်းကို သီးခြားသတ်မှတ်သင့်ပါသည်။ ငွေပေးချေမှုစည်းကမ်းချက်နှင့် ငှားရမ်းခတွက်ချက်မှုကိုက်ညီခြင်း ရှိ မရှိ ဌာနမှစိစစ်ရန်ဖြစ်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၇ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်များတွင် ဖော်ပြထားသော ဌာနမှဆောင်ရွက်ပေးရမည့် ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ဌာနအနေဖြင့် ဆောင်ရွက်ပေးနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၇(ဃ)တွင် "ဆိပ်ကမ်းအခွန်အခများကို ၁၉၉၈ ခုနှစ်၊ မတ်လ ၃၁ ရက်နေ့တွင် ထုတ်ပြန်ခဲ့သော မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ အခွန်အခနှုန်းထားဇယားတွင် ပြဌာန်းထားသည့် လက်ရှိနှုန်းထားအတိုင်း ကောက်ခံရမည် ×××××××× ဆိပ်ကမ်းအာဏာပိုင်ကသာ ထိန်းချုပ်သတ်မှတ်သည်" ဟု ဖော်ပြထားရာ ဆိပ်ကမ်းအခွန်အခများနှင့်စပ်လျဉ်း၍ "မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က သတ်မှတ်ထားသည့် တည်ဆဲအခွန်အခနှုန်းထားများနှင့်အညီ ကောက်ခံရမည်" ဟုရေးသားဖော်ပြသင့်ပါသည်။ ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၈ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ တာဝန်များ၊ အပိုဒ်ခွဲ (ခ)တွင် အပိုဒ် ၁၀ ပါကာလဖြစ်သည့် (၃)နှစ်အတွင်း အပြီးတည်ဆောက်ရမည့်ဆိပ်ခံတံတားနှင့်စပ်လျဉ်း၍ "Khaing Oo Port Terminals တွင် ပါဝင်သော တည်ဆောက်ရန်ကျန်ရှိနေသည့် ဆိပ်ခံတံတား" ဟုဖော်ပြထားရာ ဤစာချုပ်ချုပ်ဆိုခြင်းမပြုမီကပင် ဆောက်လုပ်ဆဲဖြစ်သည့်သဘော သက်ရောက်နေပါသဖြင့် နောင်အငြင်းပွားမှုမဖြစ်ပေါ်စေရေးအတွက် ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၁၁ လုပ်ငန်းအကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံနှင့်စပ်လျဉ်း၍ ပူးတွဲ-၅ နှင့် ပူးတွဲ-၆ ပါပုံစံအတိုင်း ပေးသွင်းရမည်ဟု ဖော်ပြထားရာ အဆိုပါဘဏ်အာမခံပုံစံသည် သက်ဆိုင်ရာဘဏ်က သတ်မှတ်ထားသော ပုံစံဖြစ်ရန်လိုအပ်ပြီး စာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များနှင့် ညီညွတ်ရန်လိုအပ်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၁၅ မြေနှင့်အဆောက်အဦလွှဲပြောင်းပေးအပ်ခြင်း၊ အပိုဒ်ခွဲ (က) တွင် "စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ (၆)လအတွင်း သင့်တင့်သော ပျက်စီးမှုနှင့် ယိုယွင်းမှုများကို ချွင်းချက်ထား၍ ကောင်းမွန်သော အနေအထားရှိသည့် ဆိပ်ကမ်းအဆောက်အအုံများနှင့် -------လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံသို့ ပြန်လည်လွှဲပြောင်းပေးမည်" ဟုဖော်ပြထားပါသည်။ သင့်တင့်သောပျက်စီးမှုဆိုရာတွင် မည်သည့်အတိုင်းအတာအထိ ဖြစ်ကြောင်းကို နောင်အငြင်းပွားမှုမဖြစ်စေရန်အတွက် ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် ၂၅ အထွေထွေကိစ္စရပ်များ၊ အပိုဒ် (ဂ)တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ငှားရမ်းသည့်မြေပေါ်တွင် -------- အရေးကြီးသော မည်သည့်တွေ့ရှိမှုကိုမဆို --------- ချက်ချင်းအကြောင်းကြားရမည်" ဟုဖော်ပြထားရာ "အရေးကြီးသောတွေ့ရှိမှု" ဆိုသည်မှာ မည်သည်ကိုဆိုလိုကြောင်း ရှင်းလင်းမှုမရှိပါသဖြင့် အရေးကြီးသော တွေ့ရှိမှုဆိုသည့်စကားရပ်အစား အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသော "သဘာဝသယံဇာတပစ္စည်းများ တွေ့ရှိခြင်း" ခေါင်းစဉ်အား မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဋ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော မြေငှားစာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်အပိုဒ် (ခ)တွင် ဖော်ပြထားသော အငှားချထားမည့်မြေဧရိယာ (၃၇.၀၆)ကေအား ပူးတွဲ-၁ ဖြင့် ဖော်ပြထားကြောင်း စည်းကမ်းချက်နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၂(က)ပါအတိုင်း ထပ်မံအကြံပြုပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၁၊ အပိုဒ်ခွဲ (က)(၃)တွင် "မြေအသုံးချမှုပရီမီယံကြေးပေးဆောင်ရန် ပျက်ကွက်လျှင် ဤမြေငှားစာချုပ်အပိုဒ် ၁၇(ခ)အရ စာချုပ်ရပ်စဲနိုင်သည်" ဟု ဖော်ပြထားပါသည်။ စာချုပ်(မူကြမ်း)၏ အပိုဒ် ၁၁ ၌ အပိုဒ်ခွဲ (ခ)မပါရှိသည့်အပြင် အပိုဒ် ၁၇ သည် စာချုပ်အားညှိနှိုင်းဆွေးနွေးခြင်းဖြစ်ပါသည်။ စာချုပ်ရပ်စဲခြင်းနှင့်စပ်လျဉ်း၍ အပိုဒ် ၁၂ ၌ဖော်ပြထားသဖြင့် ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ သို့ပါ၍ စာချုပ်(မူကြမ်း)တွင်ရည်ညွှန်းဖော်ပြမည့် စည်းကမ်းချက်အပိုဒ်များ မှန်ကန်မှုရှိစေရေး ဌာနက ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၁၊ အပိုဒ်ခွဲ (ခ)တွင် ရည်ညွှန်းထားသည့် ပူးတွဲ(၂)မှာ စာချုပ်တွင်ပူးတွဲပါရှိခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ပိုင်းဖြစ်ပါသဖြင့် စာချုပ်ချုပ်ဆိုချိန်တွင် ပူးတွဲပါရှိစေရေးအတွက် ဌာနက သတိပြုသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၁၊ အပိုဒ်ခွဲ (ခ)ပါ ငှားရမ်းခပေးသွင်းရန် စည်းကမ်းချက်နှင့်စပ်လျဉ်း၍အထက်အပိုဒ် ၂(ဂ)ပါအတိုင်း ထပ်မံအကြံပြုပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၂၁ တွင် မြေနှင့်အဆောက်အဦများ ပြန်လည်လွှဲပြောင်းပေးရာ၌ "မြေငှားစာချုပ်ရပ်စဲချိန် သို့မဟုတ် စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ (၆)လအတွင်း သင့်တင့်သောပျက်စီးမှုနှင့် ယိုယွင်းမှုများကို ချွင်းချက်ထား၍ကောင်းမွန်သော အနေအထားရှိသည့် ဆိပ်ကမ်းအဆောက်အအုံများနှင့် -------

မြေငှားရမ်းသူထံသို့ ပြန်လည်လွှဲပြောင်းပေးရမည်'' ဟု ဖော်ပြထားပါသည်။ သင့်တင့်သောပျက်စီးမှုဆိုရာတွင် မည်သည့်အတိုင်းအတာအထိဖြစ်ကြောင်းကို နောင်အငြင်းပွားမှုမဖြစ်စေရန်အတွက် ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၂၂ တွင် ငှားရမ်းမြေကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လုပ်ငန်းများအားလုံးပြီးစီးအောင် ဆောင်ရွက်ရန်ငှားရမ်းရမည်ကို ဝန်ခံကတိပြုကြောင်း၊ မြေငှားရမ်းသူသည် မြေပိုင်ဆိုင်မှုဆိုင်ရာ မှတ်တမ်းတင်ထားသော စာရွက်စာတမ်းများကို မြေငှားရမ်းချထားခြင်းခံရသူက လိုအပ်တောင်းခံလာသည့်အခါ ထုတ်ပေးရမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ စာချုပ်(မူကြမ်း) အပိုဒ် ၁၆ ၌ မြေငှားကာလသက်တမ်းအတိုင်း မြေအားငှားရမ်းမည်ဖြစ်သောကြောင့် အဆိုပါအချက်အား ထည့်သွင်းဖော်ပြရန် မလိုအပ်ပါ။ ပယ်ဖျက်သင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၂၂ တွင် မြေငှားရမ်းသူသည် မြေပိုင်ဆိုင်မှုဆိုင်ရာ မှတ်တမ်းတင်ထားသော စာရွက်စာတမ်းများကို မြေငှားရမ်းချထားခြင်းခံရသူက လိုအပ်တောင်းခံလာသည့်အခါ ထုတ်ပေးရမည်ဖြစ်ကြောင်း ဖော်ပြထားသည် ကို တွေ့ရှိရပါသည်။ ယခုစာချုပ်(မူကြမ်း)သည် အစိုးရဌာနပိုင်မြေအား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန် နှစ်ကာလအပိုင်းအခြားအထိ ငှားရမ်းမည်ဖြစ်သောကြောင့် မြေပိုင်ဆိုင်မှုဆိုင်ရာ မှတ်တမ်းတင်ထားသော စာရွက်စာတမ်းများကို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူအား ထုတ်ပေးရန်မလိုအပ်ပါ။ သို့ပါ၍ အဆိုပါအချက်အား မင်နီဖြင့် ပယ်ဖျက်ပေးလိုက်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)တွင် မြေငှားရမ်းစာချုပ်သက်တမ်းကာလနှင့် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းနှင့်စပ်လျဉ်းသည့် စည်းကမ်းချက်များကို ဖော်ပြထားကြောင်း တွေ့ရှိရသော်လည်း မြေငှားရမ်းကာလနှင့်စပ်လျဉ်းသည့် စည်းကမ်းချက်အား

များနှင့်စပ်လျဉ်း၍ အဆိုပါဥပဒေပုဒ်မ ၇၂ (က)အရ လုပ်ငန်းလိုင်စင်လျှောက်ထားရယူရန် လိုအပ်ပါသည်။

၇။ ဤစာချုပ်(မူကြမ်း) ၂ ရပ်ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင် မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၈။ ခိုင်ဦးကုမ္ပဏီလီမိတက်တို့သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီ ဟုတ်မဟုတ်၊ စာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိမရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါ သည်။

၉။ ဤစာချုပ်(မူကြမ်း) ၂ ရပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်စီပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၀။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

(signature) ၁၄-၃-၂၀၁၆

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)
(ဒေါက်တာသီသီမြင့်၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

**ပို့ဆောင်ရေးဝန်ကြီးဌာန**
**မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ